ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၅၉ / ၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေ လ ၂၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်

(ခ) **အဘ အမည်** ဦးစိန်မြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကတတ(နိုင်) ၀၁၂၂၄၃

(ဃ) **နေရပ်လိပ်စာ** အမှတ် ၁၂၆- အေ၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Diamond Star Company Limited (ဒိုင်းမွန်းစတား ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် ခေတ်မီ ဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် မြေဖွံ့ဖြိုးရေး လုပ်ငန်းများကို ဆောင်ရွက်ခြင်း၊ စီးပွားရေး လုပ်ငန်းဆောင်တာများ (ဓာတ်မြေသြဇာစက်ရုံ၊ ဂျုံစက်၊ ဆီကြိတ်ခွဲခြင်း၊ ဆန် အပါအဝင် ကောက်ပဲသီးနှံများ ကြိတ်ခွဲခြင်း၊ စားသုံးဆီအမျိုးမျိုး၊ ဆီအမျိုးမျိုး၊ သကြား၊ Soluble Coffee၊ Non dairy creamer စသည့် ကုန်ပစ္စည်းများ ပြုပြင်ထုတ်လုပ်ခြင်း နှင့်ထုပ်ပိုးခြင်းလုပ်ငန်း)အတွက် ရင်းနှီးမြှုပ်နှံသူအား ထပ်ဆင့်မြေငှားရမ်းခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မြေ၊ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း ဒေသ၊ မြေကွက်အမှတ် (၃၀)ရှိ မြေဧရိယာ (၃၇.၀၆)ဧက နှင့် ၄င်းနှင့်ကပ်လျက်ရှိသော မြစ် ကြောဘက်မြေကွက် မြေ ဧရိယာ (၂၄.၇၁) ဧက စုစုပေါင်း (၆၁.၇၇)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၃၇,၀၅၂.၈၇ သန်း(အမေရိကန်ဒေါ်လာ ၁၂.၄၈၉ သန်း အပါ အဝင် စုစုပေါင်းကျပ် သုံးသောင်းခုနစ်ထောင် ငါးဆယ့်နှစ်သန်းနှင့် ရှစ်သိန်းခုနစ်သောင်း ခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ် ၄၁၈-၁၁
ရက်စွဲ ၂၉.၅.၂၀၁၅
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ကန့်သတ်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄၇ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် မေ လ ၂၉ ရက်

၁။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၃၀)၊ မြေဧရိယာ (၃၇.၀၆)ဧကနှင့် ၄င်းမြေကွက်နှင့် ကပ်လျက်ရှိသော မြစ်ကြေဘက်မြေကွက်၊ မြေဧရိယာ (၂၄.၇၁) ဧက စုစုပေါင်း (၆၁.၇၇)ဧက တွင် B.O.T စနစ်ဖြင့် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် မြေဖွံ့ဖြိုးရေးလုပ်ငန်းများကို ဆောင်ရွက်ခြင်း၊ စီးပွားရေးလုပ်ငန်း ဆောင်တာများ (ဓာတ်မြေသြဇာစက်ရုံ၊ ဂျုံစက်၊ ဆီကြိတ်ခွဲခြင်း၊ ဆန် အပါအဝင် ကောက်ပဲသီးနှံများကြိတ်ခွဲခြင်း၊ စားသုံးဆီအမျိုးမျိုး၊ ဆီအမျိုးမျိုး၊ သကြား၊ Soluble Coffee, Non dairy creamer စသည့် ကုန်ပစ္စည်းများ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ထုပ်ပိုးခြင်းလုပ်ငန်း) တို့အတွက် ရင်းနှီးမြှုပ်နှံလိုသူများထံ ထပ်ဆင့် မြေငှားရမ်းခြင်းလုပ်ငန်းတို့အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား **၂၀၁၅ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ " ဆိပ်ခံတံတား၏ ဒီဇိုင်းနှင့် သက်တမ်းကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စိစစ် တင်ပြပေးရန် နှင့် ဆိပ်ခံတံတားတွင် အသုံးပြုထားသော Steel Pile အစား Reinforced Concrete Pile အဖြစ် ပြောင်းလဲခြင်းတို့ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စိစစ်တင်ပြပေးရန် "** ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်နှင့်အညီ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ဆိပ်ခံတံတား၏ ပုံစံဒီဇိုင်းများအရ ခေတ်မီဘက်စုံသုံးအပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားသက်တမ်းမှာ အနည်းဆုံးနှစ် (၅၀) ခံနိုင်ရည် ရှိနိုင်သည်ကို စိစစ်တွေ့ရကြောင်း ပြန်လည်တင်ပြလာသောကြောင့် ၂၀၁၅ ခုနှစ် မေလ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၉/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "**ခွင့်ပြုမိန့်ထုတ်ပေးရန်**" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ (ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Diamond Star Company Limited (ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် မြေဖွံ့ဖြိုးရေးလုပ်ငန်းများကို ဆောင်ရွက်ခြင်း၊ စီးပွားရေး လုပ်ငန်းဆောင်တာများ (ဓာတ်မြေသြဇာစက်ရုံ၊ ဂျုံစက်၊ ဆီကြိတ် ခွဲခြင်း၊ ဆန် အပါအဝင် ကောက်ပဲသီးနှံများကြိတ်ခွဲခြင်း၊ စားသုံးဆီအမျိုးမျိုး၊ ဆီအမျိုးမျိုး၊ သကြား၊ Soluble Coffee, Non dairy

ကန့်သတ်

creamer စသည့် ကုန်ပစ္စည်းများ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း နှင့်ထုပ်ပိုး ခြင်းလုပ်ငန်း)အတွက် ရင်းနှီးမြှုပ်နှံသူအား ထပ်ဆင့် မြေငှားရမ်းခြင်း လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၅၉ / ၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၃။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန် တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက် အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများတင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ်ပြု ထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရ မည်။

၅။ Diamond Star Company Limited (ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို** **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၆။ Diamond Star Company Limited (ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၇။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)တို့သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာ

နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ပဋိညာဥ်စာချုပ်နှင့် မြေငှားစာချုပ်ပါ စည်းမျဥ်းစည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး နှစ် (၅၀) နှင့် ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်သက်တမ်း တစ်ကြိမ်လျှင် ၁၀ နှစ် နှင့် သက်တမ်း နှစ်ကြိမ် တိုးမြှင့်နိုင်သည်။ ထိုသို့စာချုပ်သက်တမ်း ကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၉။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ယင်းနှင့် ယင်း၏ လက်အောက်ခံများ၊ အဖွဲ့ဝင် ကုမ္ပဏီများသည် ရင်းနှီးမြှုပ်နှံသူများအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိကြပြီး မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ စီးပွားရေး လုပ်ငန်းများကို ဆောင်ရွက်ခွင့်ရှိသည်။

၁၀။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ရင်းနှီးမြှုပ်နှံသူများကို စီးပွားရေးလုပ်ငန်းဆောင်တာများ ဆောင်ရွက်ရန် ထပ်ဆင့် ငှားရမ်းခြင်းအတွက် မြေကို ဖွံ့ဖြိုးအောင် ဆောင်ရွက်ခြင်းနှင့် ဆိပ်ခံတံတား တည်ဆောက်ခြင်းအတွက်သာ အသုံးပြုရမည်။ အဆိုပါ ထပ်ဆင့်ငှားရမ်းခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီမှုရယူရမည်။

၁၁။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ငွေ ကျပ် ၁၅,၀၀၀,၀၀၀ (ကျပ် တစ်ဆယ့်ငါးသန်း)နှုန်းဖြင့် မြေ၏(၆၀.၇၇)ဧက (၂၄၉၉၈၃.၁၉ စတုရန်းမီတာ)အတွက် စုစုပေါင်း ကျပ် ၉၁၆,၅၅၀,၀၀၀ ( ကျပ် ကိုးရာနှစ်ဆယ့်ခြောက်သန်း ငါးသိန်းငါးသောင်း တိတိ)ကို အောက်ပါအတိုင်း ပေးချေရမည်-

(က) ပထမအရစ်အဖြစ် မြေအသုံးချမှု ပရီမီယံကြေး၏ ၁၀ % ဖြစ်သော ကျပ် ၉၁,၆၅၅,၀၀၀ ( ကျပ် ကိုးဆယ့်နှစ်သန်း ခြောက်သိန်းငါးသောင်းငါးထောင် တိတိ) ကို စာချုပ် ချုပ်ဆိုပြီး ရက်ပေါင်း(၃၀)အတွင်း

(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှု ပရီမီယံကြေး၏ ၃၀ % ဖြစ်သော ကျပ် ၂၇၇,၉၆၅,၀၀၀ ( ကျပ် နှစ်ရာခုနှစ်ဆယ့်ခုနှစ်သန်း ကိုးသိန်း ခြောက်သောင်း ငါးထောင် တိတိ)ကို မြေငှားစာချုပ် ပထမနှစ်ပတ်လည် ကျရောက်သည့်နေ့

(ဂ) တတိယအရစ်အဖြစ် မြေအသုံးချမှု ပရီမီယံကြေး၏ ၃၀ % ဖြစ်သော ကျပ် ၂၇၇,၉၆၅,၀၀၀ ( ကျပ် နှစ်ရာခုနှစ်ဆယ့်ခုနှစ်သန်း ကိုးသိန်း ခြောက်သောင်း ငါးထောင် တိတိ)ကို မြေအသုံးချမှု ပရီမီယံကြေး ဒုတိယအရစ် ၃၀ % ပေးချေပြီး နောက် မြေငှားစာချုပ် ဒုတိယနှစ်ပတ်လည် ကျရောက်သည့်နေ့

(ဃ) စတုတ္ထအရစ်အဖြစ် မြေအသုံးချမှု ပရီမီယံကြေး၏ ၃၀ % ဖြစ်သော ကျပ် ၂၇၇,၉၆၅,၀၀၀ ( ကျပ် နှစ်ရာခုနှစ်ဆယ့်ခုနှစ်သန်း ကိုးသိန်း ခြောက်သောင်း ငါးထောင် တိတိ)ကို မြေအသုံးချမှု ပရီမီယံကြေး တတိယအရစ် ၃၀ % ပေးချေပြီး နောက် မြေငှားစာချုပ် တတိယနှစ်ပတ်လည် ကျရောက်သည့်နေ့

၁၂။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ နှစ်စဉ် မြေငှားရမ်းခအဖြစ် လုပ်ငန်း စီမံကိန်း၏ ဝင်ငွေ စတင်ရရှိသည့် နေ့မှစ၍ အောက်ပါအတိုင်း ပေးဆောင်ရမည်-

| လုပ်ငန်းဆောင်ရွက်သည့်နှစ် | ငှားရမ်းခ ငွေပေးချေမှု |
|---|---|
| (က) ပထမနှစ် မှ (၁၀)နှစ် မြောက် | စုစုပေါင်း ဝင်ငွေ၏ ၆ % |
| (ခ) ၁၁ နှစ် မှ ၂၀ နှစ် မြောက် | စုစုပေါင်း ဝင်ငွေ၏ ၁၂ % |
| (ဂ) ၂၁ နှစ် မှ ၃၅ နှစ် မြောက် | စုစုပေါင်း ဝင်ငွေ၏ ၁၈ % |
| (ဃ) ၃၆ နှစ် မြောက်မှ အထက် | စုစုပေါင်း ဝင်ငွေ၏ ၂၀ % |

၁၃။ မြေငှားရမ်းခြင်း သက်တမ်းကုန်ဆုံးပြီးနောက် ယင်းမြေပေါ်တွင် စီးပွားရေးလုပ်ငန်း ဆောင်တာများ လုပ်ကိုင်နေသည့် ရင်းနှီးမြှုပ်နှံသူများသည် ကော်မရှင်၏ သဘောတူညီချက်နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ငှားရမ်းသူတို့၏ အတည်ပြုချက်ဖြင့် ၎င်းတို့၏လုပ်ငန်း တည်ရှိ သည့် မြေ၏အပိုင်းကို ထပ်ဆင့်ငှားရမ်းခြင်းဖြင့် ဆက်လက်ဆောင်ရွက်နိုင်သည်။ ကော်မရှင်၏ သဘောတူညီချက်နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်တို့၏ အတည်ပြုချက် မရရှိပါက Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် အဆိုပါ မြေအပိုင်းကို မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်သို့ မူလအခြေအနေအတိုင်း ငှားရမ်းသက်တမ်းကာလ ကုန်ဆုံးသည့်နေ့မှ ၆လ အတွင်း ပြန်လည်အပ်နှံရမည်။

၁၄။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ဆိပ်ခံ တံတား တည်ဆောက်ရေးကာလနှင့် မြေယာဖွံ့ဖြိုးအောင် ဆောင်ရွက်ခြင်းသည် သဘောတူ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ၃ နှစ်အတွင်း တည်ဆောက်ရမည်။

၁၅။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ဆောက်လုပ်ရေးလုပ်ငန်း စီမံကိန်းအကောင်အထည်ဖော်ခြင်းနှင့် ရင်းနှီးမြှုပ်နှံသူများမှသက်ဆိုင်ရာ စီးပွားရေးလုပ်ငန်းဆောင်တာများ လုပ်ကိုင်ဆောင်ရွက်နိုင်ရေးအတွက် ဖွံ့ဖြိုးအောင် ဖော်ထုတ်ထားသည့် မြေကို တည်ဆဲဥပဒေများနှင့်အညီ ထပ်ဆင့်ငှားရမ်းခြင်းကို အကောင်အထည်ဖော်ရမည်။

၁၆။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ဘဏ်အာမခံငွေအဖြစ် ရင်းနှီးမြှုပ်နှံငွေပမာဏ၏ ၁ % ဖြစ်သော မြန်မာကျပ်ငွေ ၁၈၇,၀၉၂,၃၀၀ (ကျပ် တစ်ရာရှစ်ဆယ့်ခုနစ်သန်း ကိုးသောင်းနှစ်ထောင်သုံးရာ)နှင့် အမေရိကန်ဒေါ်လာ ၁၈၇,၂၀၀ (အမေရိကန်ဒေါ်လာ တစ်သိန်းရှစ်သောင်းခုနစ်ထောင်နှစ်ရာ)ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ စာချုပ်ချုပ်ဆိုပြီး ၄၅ ရက် အတွင်း ပေးသွင်းရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ်နှင့်အတူ ပဋိညာဉ်စာချုပ် မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၉။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်း နှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၂၀။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်

ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၂၁။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရေး တို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) သို့မဟုတ် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဥ် (Environmental Management Plan-EMP) ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၂၂။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၃။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၅။ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ပြည်ပမှ တင်သွင်းသည့်ပစ္စည်းများကိုတစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့်စီမံခန့်ခွဲကြောင်း၊ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည် ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၄၆၁/ ၂၀၁၅( ၄၁၈-ဃ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၂၉ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပို့ဆောင်ရေးဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့

မန်နေဂျင်းဒါရိုက်တာ၊ Diamond Star Company Limited (ဒိုင်းမွန်း စတားကုမ္ပဏီလီမိတက်)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၄(ည)(၁၁/၃၄၆)
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ၂၁ ရက်

အကြောင်းအရာ။ **သီလဝါဆိပ်ကမ်းဒေသတွင် ခေတ်မီ ဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်ကိစ္စ။**

၁။ နိုင်ငံတော်၏ စိုက်ပျိုးရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာစေရေးနှင့် လယ်သမားများ၏ အကျိုးစီးပွားဖြစ်ထွန်းလာစေရေးအတွက် လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရန် သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာအားဖြင့် ၃၇.၀၆ ဧက အကျယ်အဝန်းရှိ မြေကွက်အမှတ် (၃၀)နှင့် ဧရိယာအားဖြင့် ၂၄.၇၁ ဧကအကျယ်အဝန်းရှိ ၎င်းမြေကွက်နှင့် ကပ်လျှက်တည်ရှိသော မြစ်ကြေဘက်မြေကွက်၊ စုစုပေါင်းမြေဧရိယာ ၆၁.၇၇ ဧကတွင် ဆန်နှင့်ကောက်ပဲသီးနှံ အပါအဝင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် Diamond Star Co., Ltd မှ **နောက်ဆက်တွဲ(က)** ပါစာဖြင့် တင်ပြထားပါသည်။

၂။ Diamond Star Co., Ltd အား ဆန်နှင့် ကောက်ပဲသီးနှံ အပါအဝင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အထောက်အကူပြု အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ရန် သီလဝါဆိပ်ကမ်းဒေသရှိ မျက်နှာစာအလျား ၂၀၀ မီတာ x အကျယ် ၇၅၀ မီတာအရွယ် ဧရိယာအားဖြင့် ၃၇.၀၆ ဧက အကျယ်အဝန်းရှိ မြေကွက်အမှတ် (၃၀)အား သတ်မှတ်ပေးကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ **နောက်ဆက်တွဲ(ခ)** ပါစာဖြင့် အကြောင်းကြားထားပါသည်။

၃။ ထို့ပြင် ရွေးသံလွင်ကုမ္ပဏီမှ ပြန်လည် အပ်နှံထားသည့် မြေကွက်အမှတ် (၃၀) နှင့်ကပ်လျက် မြစ်ကြေဘက်ရှိ မျက်နှာစာအလျား ၁၃၃.၃၃ မီတာ x အကျယ် ၇၅၀ မီတာအရွယ် ဧရိယာ အားဖြင့် ၂၄.၇၁ ဧက အကျယ်အဝန်းရှိ မြေကွက်ကို Diamond Star Co., Ltd အား ၎င်းရမ်း အကောင်အထည်ဖော် ခွင့်ပြုနိုင်ရေး လုပ်ထုံးလုပ်နည်း နှင့်အညီ ဆောင်ရွက်ပေးသွားရန် နိုင်ငံတော်သမ္မတရုံးမှ **နောက်ဆက်တွဲ(ဂ)** ပါစာဖြင့် ညွှန်ကြားလာပါသည်။

၄။ ထို့ကြောင့် Diamond Star Co., Ltd အား ဆန်နှင့်ကောက်ပဲသီးနှံအပါအဝင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ် အထောက်အကူပြု အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ရန် သီလဝါဆိပ်ကမ်း

ဒေသရှိ မြေကွက်၏ အရွယ်အစားမှာ စုစုပေါင်း မျက်နှာစာအလျား ၃၃၃.၃၃ မီတာ x အကျယ် ၇၅၀ မီတာ (ဧရိယာ ၆၁.၇၇ ဧက)ရှိမည် ဖြစ်ပါသည်။

၅။ ယခုအခါ Diamond Star Co., Ltd အနေဖြင့် အဆိုပါ စုစုပေါင်းမြေ ဧရိယာ ၆၁.၇၇ ဧက အနက် မြေဧရိယာ ၂၀ ဧကကို ဆိပ်ကမ်းလုပ်ငန်းနှင့် သက်ဆိုင်သော အထောက်အကူပြု အဆောက်အအုံများကို တည်ဆောက်ပြီး မြစ်ကမ်းနဖူးတွင် မျက်နှာစာအလျား ၃၃၀ မီတာ x အကျယ် ၃၀ မီတာ အရွယ်ရှိ ဆိပ်ခံတံတားတစ်စင်းကို တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန် တင်ပြထားပါသည်။ ထို့အပြင် ကျန်ကျောထောက် နောက်ခံမြေ ဧရိယာ ၄၁.၇၇ ဧကပေါ်တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများ (Commercial Activities) ၏ ဆက်စပ် အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် တင်ပြထားပါသည်။ အဆိုပါ ကျောထောက်နောက်ခံမြေပေါ်တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများ (Commercial Activities)အဖြစ် ကိုယ်ပိုင်သုံး လျှပ်စစ်ဓါတ်အားပေးစက်၊ ဓါတ်မြေဩဇာစက်ရုံ၊ အမှုန့်ကြိတ် စက်ရုံလုပ်ငန်း၊ ဆီကြိတ်စက်၊ စားသုံးဆီသန့်စက်၊ သကြား၊ ဆီအမျိုးမျိုး၊ ကောက်ပဲသီးနှံ၊ စားသုံးဆီအမျိုးမျိုး၊ ဆန်၊ အမှုန့်အမျိုးမျိုးစသည့် စားသုံးကုန်ပစ္စည်းများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ထုတ်ပိုးခြင်း လုပ်ငန်းများ စသည်တို့ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် နည်းဥပဒေပါ ခံစားခွင့်များကို ခံစား၍ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြထားခြင်း ဖြစ်ပါသည်။

၆။ အဆိုပါ စီမံကိန်းအဆိုပြုလွှာတွင် အဓိကအားဖြင့် အောက်ပါအချက်များ ပါဝင်ပါသည် -

| | |
|---|---|
| (က) စီမံကိန်းတည်နေရာ | - သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာအားဖြင့် ၃၇.၀၆ ဧက အကျယ်အဝန်းရှိ မြေကွက်အမှတ် (၃၀)နှင့် ဧရိယာအားဖြင့် ၂၄.၇၁ ဧက အကျယ်အဝန်းရှိ ၎င်းမြေကွက်နှင့် ကပ်လျက်တည်ရှိသော မြစ်ကြေဘက် မြေကွက် |
| (ခ) စုစုပေါင်းမြေဧရိယာ | - ၆၁.၇၇ ဧက(၂၄၉,၉၈၃.၁၉ စ/မီတာ) |
| (ဂ) စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ | - ကျပ် ၁၈၇၀၉.၂၃ သန်းနှင့် US$ ၁၈.၇၂ သန်း |
| (ဃ) တည်ဆောက်ရေးကာလ | - သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး (၃)နှစ် (စီမံကိန်းပထမအဆင့်အဖြစ် ခေတ်မီဘက်စုံသုံး အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတား၊ ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများနှင့် ဆန်ဂိုဒေါင်တို့ကို သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး ၁၈ လ) |

| | | |
|---|---|---|
| (င) | တည်ဆောက်မည့် ဆိပ်ခံတံတား အရွယ်အစား | မျက်နှာစာအလျား ၃၃၀ မီတာ x အကျယ် ၃၀ မီတာ |
| (စ) | မြေငှားကာလ/လုပ်ငန်း လုပ်ကိုင်ခွင့်ကာလ | - ကနဦး(၅၀)နှစ်နှင့် နောက်ထပ်သက်တမ်း တစ်ကြိမ်လျှင် (၁၀)နှစ်နှင့် သက်တမ်း(၂)ကြိမ်တိုးမြှင့်ခွင့်ဖြင့် စုစုပေါင်း (၇၀) နှစ် |
| (ဆ) | မြေအသုံးချမှု ပရီမီယံကြေး | - ကျပ် ၉၂၆,၅၅၀,၀၀၀.၀၀ (မြေတစ်ဧကလျှင် ငွေကျပ် ၁၅၀ သိန်းနှုန်း) |
| (ဇ) | လစဉ်မြေငှားရမ်းခ (စုစုပေါင်းဝင်ငွေအပေါ်) | - ပထမနှစ်မှ ၁၀ နှစ်အထိ ၆ %<br>၁၁ နှစ်မှ ၂၀ နှစ်အထိ ၁၂ %<br>၂၁ နှစ်မှ ၃၅ နှစ်အထိ ၁၈ %<br>၃၆ နှစ်မှ နောင်နှစ်များ ၂၀ %<br>(အနည်းဆုံး နှစ်စဉ် စုစုပေါင်းဝင်ငွေကို ငွေကျပ် ၂၇၀,၉၄၀,၆၈၇/ ဟု တွက်ချက်ရန်) |

၇။ Diamond Star Co., Ltd မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်ရမည့် လစဉ်မြေငှားရမ်းခနှုန်းထားကို အထက်စာပိုဒ်၊ ၅(ဇ)တွင် ဖော်ပြထားသည့်အတိုင်း စုစုပေါင်း ဝင်ငွေ (Gross Revenue)အပေါ် နှစ်အပိုင်းအခြားအလိုက် တစ်ဆတစ်ဆမြင့်တက်လာသော ရာခိုင်နှုန်းထားများဖြင့် ပေးဆောင်ရမည် ဖြစ်ပါသည်။ ထိုကဲ့သို့ စုစုပေါင်းဝင်ငွေ (Gross Revenue) တွက်ချက်ရာတွင် ကုန်နှောင်နေးကြန့်ကြာကြေး ဝင်ငွေ၊ ကုန်ကိုင်တွယ်မှုလုပ်ငန်းများမှရရှိသည့် ဝင်ငွေများ၊ မြေငှားရမ်းခ ဝင်ငွေများနှင့် စီမံကိန်းနှင့်ဆက်စပ်လုပ်ငန်းများ ဆောင်ရွက်ခြင်းမှရရှိသည့် အခြားဝင်ငွေများအားလုံး ပါဝင်မည် ဖြစ်ပါသည်။

၈။ စုစုပေါင်းဝင်ငွေ (Gross Revenue)တွက်ချက်ရာတွင် ပါဝင်သည့် မြေငှားရမ်းခဝင်ငွေ၌ စီးပွားရေးလုပ်ငန်းဆောင်တာများ (Commercial Activities)ဆောင်ရွက်ရန် လျာထားသည့် မြေဧရိယာ ၄၁.၇၇ ဧကအတွက် တစ်နှစ်လျှင်မြေတစ်ဧကကို ငွေကျပ် ၆,၄၈၆,၄၉၀/ နှုန်းဖြင့် တွက်ချက်ရရှိသည့် စုစုပေါင်းငွေပမာဏကျပ် ငွေကျပ် ၂၇၀,၉၄၀,၆၈၇/(သို့မဟုတ်) ရင်းနှီးမြှုပ်နှံသူများထံ အမှန်တကယ် ထပ်ဆင့်မြေငှားရမ်းခြင်းမှ ရရှိသည့် ဝင်ငွေအပေါ်တွင် သက်ဆိုင်ရာ မြေငှားကာလသက်တမ်း အလိုက် သတ်မှတ် ရာခိုင်နှုန်းထားအရ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်ရမည့်ငွေ၊ ထိုငွေပမာဏ နှစ်ရပ်အနက် များရာအပေါ် တွက်ချက်ပေးဆောင်စေမည် ဖြစ်ပါသည်။ ထိုကဲ့သို့ သတ်မှတ်ထားခြင်းမှာ Diamond Star Co., Ltd အနေဖြင့် ရင်းနှီးမြှုပ်နှံသူများထံ ထပ်ဆင့်မြေငှားရမ်းနိုင်ခြင်း မရှိပါက

ပုံမှန်မြေငှားရမ်းခဝင်ငွေအဖြစ် ငွေကျပ် ၁၉၄,၅၉၄,၁၀၀.၀၀ ထည့်သွင်းတွက်ချက်၍ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သို့ နှစ်စဉ်ငှားရမ်းခအဖြစ် ပေးဆောင်စေမည် ဖြစ်ပါသည်။

၉။ အဆိုပါ Diamond Star Co., Ltd မှ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် (၃၀)နှင့် ၎င်း မြေကွက်နှင့် ကပ်လျက်တည်ရှိသည့် မြစ်ကြောဘက်မြေကွက်၊ စုစုပေါင်းမြေဧရိယာ ၆၁.၇၇ ဧက ကို ကျောထောက် နောက်ခံပြု၍ စားသုံးကုန်ပစ္စည်းများ တင်ချပြုလုပ်ရန် ဆိပ်ခံတံတားတစ်စင်းနှင့် အထောက်အကူပြု အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ကာ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်ကိစ္စကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ၁၇.၁၂.၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် ၁၈/၂၀၁၃ မှ သဘောတူထားပြီးဖြစ်ပါသည်။

၁၀။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Diamond Star Co., Ltd တို့အကြားချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်(BOT Contract)(မူကြမ်း)နှင့် မြေငှားစာချုပ် (Land Lease Agreement) (မူကြမ်း)တို့ အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များ တောင်းခံထားပြီး ဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ အကြံပြုချက်များနှင့် အဆိုပါ သဘောထားမှတ်ချက်၊ အကြံပြုချက်များအတိုင်း ပြုစုပြီး သဘောတူစာချုပ် မူကြမ်း တို့ကို **နောက်ဆက်တွဲ(ဃ)** ဖြင့် ပူးတွဲ တင်ပြထားပါသည်။

၁၁။ Diamond Star Co., Ltd သည် ကျောထောက်နောက်ခံမြေပေါ်တွင် စီးပွားရေးဆိုင်ရာလုပ်ငန်း ဆောင်တာများ(Commercial Activities)များကို အကောင်အထည်ဖော်တည်ဆောက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် အခြားရင်းနှီးမြှုပ်နှံသူများသို့ တစ်ဆင့်ငှားရမ်း ခွင့်ပြုရန်တင်ပြထားပါသည်။ ထိုကဲ့သို့ နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားသားနှင့် ဖက်စပ် ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံသူများအား မြေကိုထပ်ဆင့်အငှားချထားမည်ဆိုပါက အဆိုပါ စီးပွားရေး လုပ်ငန်းဆောင်တာများအတွက်ကိုမူ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေနှင့်လုပ်ထုံး လုပ်နည်း များနှင့်အညီ ခွင့်ပြုရန် တင်ပြထားပါသည်။

၁၂။ သီလဝါဆိပ်ကမ်းဒေသတွင် Diamond Star Co., Ltd အားအငှားချထားပေးသည့် မြေကွက် နေရာများတွင် လယ်ယာလုပ်ကိုင်လျက်ရှိသော လယ်သမားများနှင့် အဆိုပါ မြေနေရာတွင် နေထိုင် လျက်ရှိသော ကျေးရွာများ ပြောင်းရွှေ့ပေးရေး ကိစ္စနှင့် မြေလျော်ကြေးပေးရေး ကိစ္စတို့ကို မြန်မာ့ဆိပ် ကမ်းအာဏာပိုင်နှင့် Diamond Star Co., Ltd တို့က ညှိနှိုင်း ဆောင်ရွက်ပေးသွားရန် ဆွေးနွေး သဘောတူထားပြီး ဖြစ်ပါသည်။

၁၃။ သို့ဖြစ်ပါ၍ Diamond Star Co., Ltd အား ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်း နယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာအားဖြင့် ၃၇.၀၆ ဧက အကျယ်အဝန်းရှိ မြေကွက်အမှတ် (၃၀)နှင့် ဧရိယာအားဖြင့် ၂၄.၇၁ ဧက အကျယ်အဝန်းရှိ ၎င်းမြေကွက်နှင့် ကပ်လျက်တည်ရှိသော မြစ်

ကြောဘက် မြေကွက်၊ စုစုပေါင်းမြေဧရိယာ ၆၁.၇၇ ဧကအနက် မြေဧရိယာ ၂၀ ဧကကို ဆိပ်ကမ်းလုပ်ငန်းနှင့်သက်ဆိုင်သော အဆောက်အအုံပြုအဆောက်အအုံများကို တည်ဆောက်ပြီး မြစ်ကမ်းနဖူးတွင် မျက်နှာစာအလျား ၃၃၀ မီတာ × အကျယ် ၃၀ မီတာအရွယ်ရှိ ဆန်နှင့်ကောက်ပဲသီးနှံ အပါအဝင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား တစ်စင်းကိုလည်းကောင်း၊ ကျောထောက်နောက်ခံမြေဧရိယာ ၄၁.၇၇ ဧကပေါ်တွင် စီးပွားရေးဆိုင်ရာ လုပ်ငန်းဆောင်တာများ (Commercial Activities)အဖြစ် ကိုယ်ပိုင်သုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံ၊ ဓါတ်မြေသြဇာစက်ရုံ၊ အမှုန့်ကြိတ် စက်ရုံလုပ်ငန်း၊ ဆီကြိတ်စက်၊ စားသုံးဆီသန့်စက်၊ သကြား၊ ဆီအမျိုးမျိုး၊ ကောက်ပဲသီးနှံ၊ စားသုံးဆီအမျိုးမျိုး၊ ဆန်၊ အမှုန့်အမျိုးမျိုးစသည့် စားသုံးကုန်ပစ္စည်း များပြုပြင်ထုတ်လုပ်ခြင်းနှင့် ထုတ်ပိုးခြင်းလုပ်ငန်းများစသည်တို့ကို အကောင်အထည်ဖော် တည်ဆောက်၍လည်းကောင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ကနဦး (၅၀)နှစ်နှင့် နောက်ထပ်သက်တမ်း တစ်ကြိမ်လျှင် (၁၀)နှစ်နှင့် သက်တမ်း နှစ်ကြိမ်တိုးမြှင့်ခွင့်ဖြင့် စုစုပေါင်းသက်တမ်း (၇၀)နှစ် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူကို-
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နောက်ဆက်တွဲ (ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၃၉၊၄၀၆၁၆၁

စာအမှတ်၊ ရက-၁ / မ-ထွေ / ၂၀၁၂ ( ၁၁၇၀၆ )
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာ လ ၇ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **သီလဝါ ဆိပ်ကမ်းဖွံ့ဖြိုးရေး စီမံကိန်းနေရာရှိ ဆိပ်ကမ်း မြေနေရာအား ငှါးရမ်း သုံးစွဲခွင့်ပြုခြင်းအပေါ် လုပ်ငန်း ဆောင်ရွက်ရန်အတွက် ကူညီပံ့ပိုးပေးရန် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) Myanma Agricultural & General Development Public Co., Ltd ၏ (၁၄-၉-၂၀၁၂) ရက်စွဲပါတင်ပြစာ

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀-၈-၂၀၁၂) ရက်စွဲပါစာ အမှတ်၊ ရက-၁ / မ-ထွေ / ၂၀၁၂ (၁၀၃၈၄-၅)

၁။ Myanma Agricultural & General Development Public Co., Ltd မှ သီလဝါ ဆိပ်ကမ်းဖွံ့ဖြိုးရေး စီမံကိန်းနေရာရှိ ဆိပ်ကမ်း မြေနေရာအား ငှါးရမ်း သုံးစွဲခွင့် ပြုခြင်းအပေါ် လုပ်ငန်း ဆောင်ရွက်ရန်အတွက် ကူညီပံ့ပိုးပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာပါသည်။

၂။ သီလဝါ ဆိပ်ကမ်းဒေသတွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားများ တည်ဆောက်ရေးအတွက် ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်းကို (၁-၈-၂၀၁၂)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၃/၂၀၁၂) အစည်းအဝေးသို့ တင်ပြခဲ့ပြီး ယင်းအစည်းအဝေးမှ ဆုံးဖြတ်ချက်အား ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြား ခဲ့ပါသည်။

၃။ အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ်(ဂ)တွင် "ကောက်ပဲသီးနှံ ဆိပ်ခံတံတား အတွက် အကွက်အမှတ်(၂၉)နှင့် (၃၀) တို့ကို ကုမ္ပဏီတစ်ခုလျှင် တစ်ကွက်သာ သတ်မှတ်ရန်၊ မြေငှါးရမ်းခနှုန်း ကို Gross Revenue အပေါ် ရာခိုင်နှုန်း သတ်မှတ်ကောက်ခံရန်" ဆုံးဖြတ်ခဲ့ပါသည်။

၄။ ကောက်ပဲသီးနှံ ဆိပ်ခံတံတား ဆောင်ရွက်ရန်အတွက် မြေကွက်(၂)ကွက် ရှိသည့်အနက် အကွက်အမှတ်(၂၉)ကို Myanma Agricultural & General Development Public Co., Ltd

သို့လည်းကောင်း၊ အကွက်အမှတ် (၃၀)ကို Diamond Star Co., Ltd သို့ လည်းကောင်း သတ်မှတ်ပေးပြီး ဖြစ်ပါကြောင်း သိရှိနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(တင်ကိုဝင်း၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ -

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

Myanmar Agricultural & General Development Public Co., Ltd.

Diamond Star Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၃(ည)(၁၀/၁၈၄)
ရက်စွဲ၊၂၀၁၃ခုနှစ်၊အောက်တိုဘာလ ၁၅ ရက်

သို့

နိုင်ငံတော်သမ္မတရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက် တင်ပြခြင်း

ရည် ညွှန်း ချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ ၁၇.၉.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၂၂(၁)/၇/ သမ္မတရုံး

(၂) နိုင်ငံတော်သမ္မတရုံး၏ ၇.၁၀.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၂၂(၁)/၇/ သမ္မတရုံး

၁။ သီလဝါဆိပ်ကမ်းဒေသတွင် ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက်မှ လုပ်ကိုင်ခွင့်ရရှိပြီးဖြစ်သော ဆိပ်ခံတံတား အကွက်အမှတ် - ၃၀နှင့် ကပ်လျက်တဆက်တည်း ရွှေသံလွင်ကုမ္ပဏီမှ ပြန်လည်အပ်နှံထားသော အကွက်ကိုပါအကောင်အထည်ဖော်ဆောင်ရွက်ခွင့်တင်ပြထားသည့်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြရန်ရည်ညွှန်းပါစာများဖြင့်ညွှန်ကြားခဲ့ပါသည်။

၂။ ဒိုင်းမွန်းစတားကုမ္ပဏီမှ ထက်မံလျှောက်ထားသည့်မြေမှာ မြစ်ဘက်မျက်နှာစာ အလျား (၁၃၃.၃၃)မီတာ x အကျယ် (၇၅၀)မီတာ ရှိပါသည်။ ၎င်းအကွက်အား ဒိုင်းမွန်းစတားကုမ္ပဏီသို့ လုပ်ကိုင်ခွင့်ပြုမည်ဆိုပါက လျှောက်ထားသည့်ကုမ္ပဏီအနေဖြင့် လုပ်ငန်းများပိုမိုအဆင်ပြေစွာ ဆောင်ရွက်နိုင်မည်ဖြစ်ပြီး ပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့်လည်း သဘောတူပါကြောင်း တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

\\Mo4-Data-Pc\D\DWE-I (WATER TRANSPORT)\2013\52 - PA SA (MPA)\52 - PA SA (OIL PORT).Doc

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၂၂ (၁) / ၇ / သမ္မတရုံး

ရက် စွဲ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

သို့

ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **သီလဝါဆိပ်ကမ်းနယ်မြေတွင် မြေကွက်ငှားရမ်းလုပ်ကိုင်ခွင့်ပြုခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ပို့ဆောင်ရေးဝန်ကြီးဌာန၏ ၁၁-၁၀-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၅၂-ပဆ / ခွဲ(၁) ၂၀၁၃ (ည) (၁၀/၁၈၄)

သီလဝါဆိပ်ကမ်းဒေသတွင် ဒိုင်းမွန်းစတားကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ခွင့်ရရှိထားသော ဆိပ်ခံတံတားများအတွက် ခွင့်ပြုချက်ရရှိခဲ့ပြီးဖြစ်သည့် အကွက်အမှတ် (၃၀) နှင့်ကပ်လျက်ရှေသံလွင်ကုမ္ပဏီမှ ပြန်လည်အပ်နှံထားသည့်အကွက်အမှတ် (၃၁)ကို ငှားရမ်း အကောင်အထည်ဖော်ခွင့်ပြုပါရန် မန်နေးဂျင်းဒါရိုက်တာ ဦးကိုကိုကြီး၏ တင်ပြချက်နှင့်စပ်လျဉ်း၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပေးသွားရန် အကြောင်းကြားအပ်ပါသည်။

ပုံ/-

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (ဘဏ္ဍာရေးဝန်ကြီးဌာန)

DIAMOND STAR CO., LTD.

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ရန်ကုန်မြို့။

စာအမှတ် ၊ ဆက/မရက-၁/၂၀၁၄
ရက်စွဲ ၊၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ( ၃၀ )ရက်

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းတွင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ် အဆောက်အအုံများကို တည်ဆောက်၍ BOT စနစ်ဖြင့်လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် **စီမံကိန်း** အဆိုပြုလွှာတင်ပြခြင်း။

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၈-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-ထွေ/၂၀၁၂ (၁၀၃၈၄-၅) (မိတ္တူပူးတွဲ)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၉-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-ထွေ/၂၀၁၂ (၁၁၇၀၆) (မိတ္တူပူးတွဲ)

၁။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် အနေဖြင့် သီလဝါဆိပ်ကမ်းဒေသတွင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများကို တည်ဆောက်နိုင်ရေးအတွက် မြေနေရာချထားပေးရန် နိုင်ငံတော်အကြီးအကဲများထံတင်ပြခဲ့ရာ လစ်လပ်လျက်ရှိသော သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာ ၃၇.၀၆ ဧက အကျယ်အဝန်းရှိမြေကွက်အမှတ် (၃၀) နှင့် ဧရိယာ ၂၄.၇၁ ဧကအကျယ်အဝန်းရှိ ၄င်းမြေကွက် နှင့် ကပ်လျက်တည်ရှိသောမြေကွက် (စုစုပေါင်း မျက်နှာစာအလျား ၃၃၃.၃၃မီတာ၊ အကျယ် ၇၅၀မီတာ) ကို ကျွန်တော်တို့၏ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာများဖြင့် သတ်မှတ်ခွင့်ပြုထားပြီးဖြစ်ပါသည်။

၂။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ တရားဝင်မှတ်ပုံတင်ထားသော တိုင်းရင်းသားလုပ်ငန်းရှင်များပိုင် ကုမ္ပဏီတစ်ခုဖြစ်ပြီး အဓိကအားဖြင့် ဆန်နှင့်ကောက်ပဲသီးနှံမျိုးစုံကို ပြည်တွင်းတွင်လည်းကောင်း၊ ပို့လျှံသည်များကိုနိုင်ငံခြားသို့လည်းကောင်း ဖြန့်ဖြူး ရောင်းချလျက်ရှိသောကုမ္ပဏီတစ်ခုဖြစ်ပါသည်။

No. 256/260, Sule Pagoda Road, Kyauktada Township, Yangon, Myanmar
Tel: + 951 373388 Fax: +951 242663

၃။ ယခုအခါနိုင်ငံတော်အနေဖြင့်စိုက်ပျိုးရေးကို ပိုမိုဖွံ့ဖြိုးတိုးတက်အောင်ဆောင်ရွက်ပြီး ခေတ်မီစက်မှု နိုင်ငံ ထူထောင်ရန် နှင့် အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိရာ၊ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်အနေဖြင့်လည်း နိုင်ငံတော်အတွင်း လယ်ယာစိုက်ပျိုးရေး ကဏ္ဍ ရေရှည်ဖွံ့ဖြိုးတိုးတက်လာစေရေးအတွက် တစ်ဖက်တစ်လမ်းမှ ပါဝင်ဆောင်ရွက်လျက်ရှိပါသည်။ ထိုကဲ့သို့ လယ်ယာစိုက်ပျိုးရေးကဏ္ဍ ရေရှည်တိုးတက်လာစေရန် အစွမ်းကုန်ကြိုးပမ်း ဆောင်ရွက်ပေးလျက်ရှိရာတွင် ကျွန်တော်တို့၏ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် အနေဖြင့် ကိုယ်တိုင်စိုက်ပျိုးရေးလုပ်ငန်းများကို ဆောင်ရွက် လျက်ရှိသည့်အပြင် တောင်သူလယ်သမားများအား ဆန် နှင့် ကောက်ပဲသီးနှံမျိုးစုံအတွက် အထူးအထွက်တိုး မျိုးကောင်းမျိုးသန့်များကို ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဖြူးပေးလျက်ရှိသည့်အပြင် ဓါတ်မြေဩဇာ အမျိုးမျိုး နှင့် ပိုးသတ်ဆေးအမျိုးမျိုးကိုလည်း ဈေးနှုန်းချိုသာစွာဖြင့်ဖြန့်ဖြူးပေးလျက်ရှိပါသည်။

၄။ နိုင်ငံတော်၏ ပြည်သူပြည်သား တောင်သူလယ်သမားများအပေါ်ထားရှိသော မွန်မြတ်သည့် စေတနာ အကျိုးကြောင့် နိုင်ငံတော်၏ လယ်ယာစိုက်ပျိုးရေးကဏ္ဍမှာ မကြာမီကာလအတွင်း ပိုမိုဖွံ့ဖြိုး တိုးတက် လာမည် ဖြစ်ရာ ဆန်နှင့်လယ်ယာထွက်ကုန်မျိုးစုံ ပျက်စီးဆုံးရှုံးမှုမရှိစေဘဲ ကြာရှည်သိုလှောင်ထားနိုင်သည့် ခေတ်မီ သိုလှောင်ရေး စခန်းများကိုလည်းကောင်း ၊ ပိုလျှံသည့်ဆန်နှင့် လယ်ယာထွက်ကုန်ပစ္စည်းများကို နိုင်ငံခြားသို့ ရာသီမရွေး တင်ပို့နိုင်ရေးအတွက် ဝမ်းပုံစနစ် (Solid Bulk Cargo) ဖြင့် တင်/ချပြုလုပ်နိုင်သည့် ခေတ်မီ ဆိပ်ကမ်းများကိုလည်းကောင်း တည်ဆောက်ရန်လိုအပ်လာပါသည်။

၅။ ထို့ကြောင့် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် အနေဖြင့် သီလဝါဆိပ်ကမ်းဒေသ၊ ဧရိယာ ၃၇.၀၆ ဧက အကျယ်အဝန်းရှိမြေကွက်အမှတ် (၃၀) နှင့် ဧရိယာ ၂၄.၇၁ ဧက အကျယ်အဝန်းရှိ ၎င်းမြေကွက် နှင့်ကပ်လျက် တည်ရှိသောမြေကွက်တွင် ခေတ်မီကောက်ပဲသီးနှံတင်/ချဆိပ်ခံတံတား နှင့် အထောက်အကူပြု အဆောက် အအုံများတည်ဆောက်ရန်ရည်ရွယ်ထားပါသည်။ အဆိုပါစုစုပေါင်း မြေဧရိယာ (၆၁.၇၇) ဧကတွင်ဆိပ်ကမ်း လုပ်ငန်းအတွက် မြေဧရိယာ (၂၀) ဧက အသုံးပြုရန်နှင့်စီးပွားရေး လုပ်ငန်း ဆောင်တာများ နှင့် ဆက်စပ် အဆောက်အအုံများအတွက် မြေဧရိယာ (၄၁.၇၇) ဧက အသုံးပြုသွားရန်ရည်ရွယ်ထားပါသည်။

၆။ အဆိုပါမြေနေရာတွင်ထွေထွေကုန်စည်နှင့်ကောက်ပဲသီးနှံတင်/ချဆိပ်ခံတံတား တည်ဆောက်ရာတွင် ပင်လယ်ကူးသင်္ဘောကြီးများဆိုက်ကပ်နိုင်ရေးအတွက်လည်းကောင်း ၊ ဆန်နှင့်လယ်ယာထွက်ကုန်ပစ္စည်းများကို နိုင်ငံခြားသို့ ရာသီမရွေးတင်ပို့နိုင်ရေးအတွက် ဝမ်းပုံစနစ် (solid Bulk Cargo) ဖြင့် တင်/ချ ပြုလုပ်နိုင်သည့် ခေတ်မီဆိပ်ခံတံတားကိုလည်းကောင်း တည်ဆောက်သွားရန်ရည်ရွယ်ထားပါသည်။ ထို့အပြင် တိုးတက်များပြား လာမည့် ဆန်နှင့်လယ်ယာထွက်ကုန်မျိုးစုံ ပျက်စီးဆုံးရှုံးမှုမရှိစေဘဲ ကြာရှည်သိုလှောင်ထားနိုင်ရန် နှင့် နိုင်ငံတော် အတွက် အရန် ဆန်စပါးများထားသိုနိုင်သည့်ခေတ်မီသိုလှောင်ရေးစခန်းများ (Grains Silo Farm) နှင့် အထောက်အကူပြု အဆောက်အအုံများကိုလည်းကောင်း အဆင့်လိုက် အကောင်အထည်ဖော် တည်ဆောက် သွားရန် ရည်ရွယ်ထားပါသည်။

၇။ စီမံကိန်းလုပ်ငန်းများကို (၃) နှစ်အတွင်း ပြီးစီးအောင်တည်ဆောက်သွားမည်ဖြစ်ပြီး ပထမအဆင့် လုပ်ငန်းများအဖြစ် ခွင့်ပြုချက်ရရှိပြီး (၁၈)လ အတွင်း အောက်ပါခေတ်မီဘက်စုံသုံး အပြည့်ပြည့်ဆိုင်ရာ

ဆိပ်ခံတံတား နှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများကို အကောင်အထည် ဖော်တည်ဆောက်သွားမည်ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | တံတားတည်ဆောက်မည့်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး ၊ သီလဝါဆိပ်ကမ်း ဒေသ |
| (ခ) | အကွက်အမှတ် | - | ဧရိယာ ၃၇.၀၆ ဧက အကျယ်အဝန်း ရှိ မြေကွက်အမှတ် (၃၀) နှင့် ဧရိယာ ၂၄.၇၁ ဧက အကျယ်အဝန်းရှိ ၎င်းမြေကွက် နှင့် ကပ်လျက် တည်ရှိသောမြေကွက် |
| (ဂ) | မြေကွက်အရွယ်အစား | - | ၃၃၃. ၃၃ မီတာနှင့် x ၇၅၀ မီတာ |
| (ဃ) | ဆိပ်ခံတံတားအမျိုးအစား | - | သံကူကွန်ကရစ်ဆိပ်ခံတံတား |
| (င) | ဆိပ်ခံတံတား အရွယ်အစား | - | အလျား (၃၃၀) မီတာ x အကျယ် (၃၀) မီတာဆိပ်ခံတံတား ၊ အလျား (၉၀) မီတာရှိ ချည်းကပ်တံတား (၃) စင်း |
| (စ) | ဆန်ကိုဒေါင် | - | ၁၈၀ မီတာ ၁၂၅ မီတာ (၁) လုံး |

၈။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်းအတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာ ၃၇.၀၆ ဧက အကျယ်အဝန်းရှိ မြေကွက်အမှတ် (၃၀) နှင့် ဧရိယာ ၂၄.၇၁ ဧကအကျယ်အဝန်းရှိ ၎င်းမြေကွက်နှင့်ကပ်လျက် တည်ရှိသောမြေကွက်၊ စုစုပေါင်း မြေဧရိယာဧက ၆၁.၇၇ ဧက မြေအသုံးချပရီမီယံကြေးအဖြစ်မြေတစ်ဧက လျှင်ငွေကျပ် (၁၅၀) သိန်းနှုန်း ပေးဆောင်မည်ဖြစ်ပါသည်။

၉။ ၎င်းအပြင် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် သည် အထွေထွေကုန်စည်ကိုသာ အဓိကထား ကိုင်တွယ် မည်ဖြစ်ပြီး မြေငှားရမ်းခအဖြစ် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းမှ ရရှိသည့် စုစုပေါင်းဝင်ငွေ (Gross Revenue ) အပေါ် အောက်ပါအတိုင်း ပေးဆောင်သွားရန်အဆိုပြုတင်ပြအပ်ပါသည်။

| | |
|---|---|
| ပထမနှစ်မှ (၁၀ ) နှစ်အထိ | စုစုပေါင်းဝင်ငွေ (Gross Revenue ) ၏ ၆% |
| (၁၁) နှစ်မြောက်နှစ်မှ (၂၀) နှစ်အထိ | စုစုပေါင်းဝင်ငွေ (Gross Revenue ) ၏ ၁၂% |
| (၂၁) နှစ်မြောက်နှစ်မှ (၃၅) နှစ်အထိ | စုစုပေါင်းဝင်ငွေ (Gross Revenue ) ၏ ၁၈% |
| (၃၆) နှစ်မြောက်နှစ်မှအထက် | စုစုပေါင်းဝင်ငွေ (Gross Revenue ) ၏ ၂၀% |

၁၀။ ခေတ်မီဘက်စုံသုံးအပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့် စီးပွားရေးလုပ်ငန်း ဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းကို ပြည်တွင်း ငွေကျပ်သန်း (၁၈၇၀၉. ၂၃) နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၁၈. ၇၂) သန်းခန့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၁၁။ သို့ဖြစ်ပါ၍ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်အား ခွင့်ပြုထားသော သီလဝါဆိပ်ကမ်းဒေသ၊ ဧရိယာ ၃၇. ၀၆ ဧက အကျယ်အဝန်းရှိမြေကွက်အမှတ် (၃၀) နှင့် ဧရိယာ ၂၄. ၇၁ ဧကအကျယ်အဝန်းရှိ ၄င်းမြေကွက်နှင့် ကပ်လျက်တည်ရှိသော မြေကွက်တွင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား နှင့်စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများကိုတည်ဆောက်ရေး လုပ်ငန်းစီမံကိန်းကို လုပ်ငန်းလုပ်ကိုင်ခွင့် ကာလသက်တမ်း ကနဦး (၅၀) နှစ်နှင့်နောက်ထပ် (၁၀) နှစ် (၂) ကြိမ်တိုးမြှင့်ခွင့်ပြုသည့်BOT စနစ်ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခွင့်အရေး နှင့် ခံစားခွင့်များကို ခံစားခွင့်ပြုကာလုပ်ငန်းလုပ်ကိုင်ခွင့်ပြုနိုင်ပါရန်လေးစားစွာတင်ပြအပ်ပါသည်။

(BOT စာချုပ်နှင့်မြေငှားစာချုပ်များကိုနောက်ဆက်တွဲဖြင့်ပူးတွဲဖော်ပြအပ်ပါသည်။)

လေးစားစွာဖြင့်

ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်
မန်နေဂျင်း ဒါရိုက်တာ
ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်

ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်

၏

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်–ကျောက်တန်းနယ်မြေ၊
သီလဝါဆိပ်ကမ်းတွင် ခေတ်မီဘက်စုံသုံး အပြည့်ပြည့်ဆိုင်ရာ
ဆိပ်ခံတံတား နှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏
ဆက်စပ်အဆောက်အအုံများကို တည်ဆောက်၍ BOT စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

အဆိုပြုတင်ပြချက်

# DIAMOND STAR CO., LTD.

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်း အာဏာပိုင်

စာအမှတ် ။ ။ ဆက/မရက–၂/၂၀၁၄

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊အောက်တိုဘာလ (၃၀) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရအဆိုပြုချက်တင်ပြခြင်း။

(၁) ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် သည် ပို့ဆောင်ရေး ဝန်ကြီးဌာန ၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင် ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး သီလဝါဆိပ်ကမ်းနယ်မြေရှိ မြေဧရိယာဧက ၆၁.၇၇ အား ငှားရမ်း၍ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများကို တည်ဆောက်၍ **BOT** စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့် ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့် အဆိုပြုချက်ကို ပြုစုပြီးဖြစ်ပါသဖြင့် လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

(၂) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ရရှိနိုင်ရန်အတွက် ပို့ဆောင်ရေးဝန်ကြီးဌာန ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် အနေဖြင့် လိုအပ်သလို အရေးယူဆောင်ရွက်ပေးနိုင်ပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲ တင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပက်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(ဃ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

(င) မီးဘေးလုံခြုံရေး စီမံချက်၊

(စ) ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်

No. 256/260, Sule Pagoda Road, Kyauktada Township, Yangon, Myanmar
Tel: + 951 373388 Fax: +951 242663

(ဆ) EIA ဆောင်ရွက်ရန် Green Environmental , Health , Safety & Social Consultancy Co., Ltd သို့ လုပ်ငန်းအပ်နှံထားကြောင်း အထောက်အထား၊

(ဇ) ပဋိညာဉ်စာချုပ် (မူကြမ်း) နှင့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)၊

(ဈ) ပဋိညာဉ်စာချုပ်(မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) တို့အပေါ် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊

(၃) အဆိုပြုချက်နှင့် ပူးတွဲစာရွက်စာတမ်းများအပေါ် စိစစ်အတည်ပြုပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ခွင့်ပြုမိန့်ရရှိရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

လေးစားစွာဖြင့်

ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်
အုပ်ချုပ်မှုဒါရိုက်တာ
ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂)၊နေပြည်တော်

စာအမှတ်။ ။ MIC/ မရက-၁/၂၀၁၄

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ် အောက်တိုဘာလ (၃၀) ရက်

အကြောင်းအရာ။ ။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် မှ လုပ်ငန်းဆောင်ရွက်ခြင်း နှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥဒေအရ "ဒိုင်းမွန်း စတားကုမ္ပဏီ လီမိတက်" သည် ရန်ကုန်တိုင်းဒေသကြီး သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းတွင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ ၏ ဆက်စပ် အဆောက်အအုံများကို တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် အောက်ပါ တို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) နိုင်ငံတော်အစိုးရမှမြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဂ) ထို့အပြင်ကုမ္ပဏီအနေဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) ဝယ်ယူမည့်စက်ပစ္စည်းများသည် အသစ် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(င)	လုပ်ငန်းအတွက် ကုန်ပစ္စည်းများတင်သွင်း တင်ပို့ရာတွင် ရေကြောင်းခရီး/ လေကြောင်းခရီး တို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်
အုပ်ချုပ်မှုဒါရိုက်တာ
ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်

**DIAMOND STAR CO., LTD.**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂)၊နေပြည်တော်

စာအမှတ်။ ။ MIC/ မရက-၂/ ၂၀၁၄
ရက်စွဲ ။ ။၂၀၁၄ ခုနှစ် အောက်တိုဘာလ (၁၀) ရက်

အကြောင်းအရာ။ ။ "ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်" မှ လုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပက်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ "ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်" သည် ရန်ကုန်တိုင်းဒေသကြီး သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းတွင် ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား နှင့် စီးပွားရေး လုပ်ငန်းဆောင်တာများ ၏ ဆက်စပ် အဆောက်အအုံများကို တည်ဆောက်၍ **BOT** စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ လျှောက်ထားခြင်းဖြစ်ပါသည်

၂။ ထိုသို့လျှောက်ထားရာတွင်ဆိပ်ကမ်းလုပ်ငန်းဖြစ်၍ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်
အုပ်ချုပ်မှုဒါရိုက်တာ
ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက်

No. 256/260, Sule Pagoda Road, Kyauktada Township, Yangon, Myanmar
Tel: + 951 373388 Fax: +951 242663

